ကုမ္ပဏီအမည် - **ထည်ဝါလင်းလက်ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်**

လုပ်ငန်း - **ရှုခင်းကြည့်ခရီးသည် ပို့ဆောင်ရေးနှင့် ခရီးသွားဝန်ဆောင်မှု လုပ်ငန်း**

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြည်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | ကုမ္ပဏီမှအဆိုပြုလွှာတင်ပြလာခြင်း | ၃-၁၀-၂၀၁၇ | | |
| ၂ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး၂/၂၀၁၇ သို့ တင်ပြခြင်း | ၂၄-၁၀-၂၀၁၇ | | |
| ၃ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) ရောဝတီတိုင်းဒေသကြီး အစိုးရအဖွဲ့ | ၃၀-၁၀-၂၀၁၇ | | |
| | (ခ)ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန | ၃၀-၁၀-၂၀၁၇ | ၁-၁၁-၂၀၁၇ | |
| | ကုမ္ပဏီသို့ဌာနဆိုင်ရာသဘောထားမှတ်ချက်များအရပြင်ဆင်တင်ပြရန်အကြောင်းကြားခြင်း | ၈-၁၁-၂၀၁၇ | | |
| | ကုမ္ပဏီမှလိုအပ်ချက်များပြင်ဆင်တင်ပြလာခြင်း | ၂၀-၁၁-၂၀၁၇ | | |
| ၄ | ကော်မတီအစည်းအဝေးသို့တင်ပြခြင်း (၄/၂၀၁၇) ARIC | ၂၁-၁၁-၂၀၁၇ | | |
| | **စုစုပေါင်းကြာမြင့်ရက် ၄၈ ရက်** | | | |

ထည်ဝါလင်းလက်ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်မှ ရခိုင်နှုန်းပြည့် နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့်
ရှုခင်းကြည့်ခရီးသည် ပို့ဆောင်ရေးနှင့် ခရီးသွားဝန်ဆောင်မှု လုပ်ငန်းအား
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ
အတည်ပြုလျှောက်ထားလွှာတင်ပြလာခြင်းနှင့်စပ်လျဉ်း၍
တင်ပြရန်လိုအပ်သည့်အချက်အလက်များ

| စဉ် | ကုမ္ပဏီအမည် | လုပ်ငန်းအမျိုးအစား | PAT အကြိမ် နေ့စွဲ | ဆွေးနွေးချက်မှ တင်ပြရန်လိုအပ်ချက် | ဆောင်ရွက်ပြီးစီးမှု | မှတ်ချက် |
|---|---|---|---|---|---|---|
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ |
| ၁။ | ထည်ဝါလင်းလက်ဆောက်လုပ်ရေးကုမ္ပဏီလီမိတက် | ရှုခင်းကြည့်ခရီးသည်ပို့ဆောင်ရေးနှင့် ခရီးသွားဝန်ဆောင်မှုလုပ်ငန်း | ၂/၂၀၁၇ (၂၄-၁၀-၂၀၁၇) | (က)ကျွန်းပေါ်တွင် ဆောင်ရွက်လိုသည့် လုပ်ငန်းများနှင့် စပ်လျဉ်း၍ တိုင်းဒေသကြီးအစိုးရအဖွဲ့၏သဘောထား | ဆောင်ရွက်ဆဲ | |

အကြောင်းအရာ။ **ထည်ဝါလင်းလက်ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်မှ ရာခိုင်နှုန်းပြည့် နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ရှုခင်းကြည့်ခရီးသည် ပို့ဆောင်ရေးနှင့် ခရီးသွားဝန်ဆောင်မှု လုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ အတည်ပြုလျှောက်ထားလွှာ တင်ပြလာခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်<br>ရင်းနှီးမြှုပ်နှံသူ<br>ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဍာန်<br>လုပ်ငန်းအမျိုးအစား | - ထည်ဝါလင်းလက်ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်<br>- ဦးဇေယျာကျော်<br>- ရာခိုင်နှုန်းပြည့်နိုင်ငံသားရင်းနှီးမြှုပ်နှံမှု<br>- ရှုခင်းကြည့်ခရီးသည် ပို့ဆောင်ရေးနှင့် ခရီးသွားဝန်ဆောင်မှု လုပ်ငန်း |
| ၂။ | တည်နေရာ | - ဧရာဝတီတိုင်းဒေသကြီး၊ ငွေဆောင်ကမ်းခြေ ချစ်သူများကျွန်းမှ အနောက်မြောက်ဘက် ၉.၄ မိုင်အကွာ ပင်လယ်ပြင်တွင် တည်ရှိသော ငှက်တောင် (မြောက်ကျွန်း) |
| ၃။ | မြေပိုင်ရှင်<br>အကျယ်အဝန်း<br><br>မြေ/အဆောက်အအုံငှားရမ်းခ<br>မြေ/အဆောက်အအုံငှားရမ်း/<br>အသုံးပြုခွင့်သက်တမ်း | ဧရာဝတီတိုင်းဒေသကြီး၊ ငွေဆောင်ကမ်းခြေ ချစ်သူများကျွန်းမှ အနောက်မြောက်ဘက် ၉.၄ မိုင်အကွာ ပင်လယ်ပြင်တွင် တည်ရှိသော ငှက်တောင် (မြောက်ကျွန်း) သို့ Speed Boat ဖြင့် ရှုခင်းကြည့်ခရီးသည် ပို့ဆောင်မည်ဖြစ်ပါသည်။ |
| ၄။ | ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် သက်တမ်း | - ၁၅ နှစ် |
| ၅။ | တည်ဆောက်မှုကာလ/ပြင်ဆင်မှု ကာလ | - ၁ နှစ် စမ်းသပ်ဆောင်ရွက်ပြီးဖြစ်ပါသည်။ |
| ၆။ | စုစုပေါင်းမတည်ငွေရင်းပမာဏ ထည့်ဝင်သည့်အမျိုးအစား | **ကျပ်(သန်းပေါင်း)** / **ရာခိုင်နှုန်း** |
| | (က) ပြည်တွင်းမှထည့်ဝင်သည့် မတည်ငွေရင်းပမာဏ/ရာခိုင်နှုန်း | ၁,၀၀၀.၀၀ / ၁၀၀ % |
| | **စုစုပေါင်း** | **၁,၀၀၀.၀၀** |
| ၇။ | အခြားတင်ပြချက် | (က) ထည်ဝါလင်းလက် ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်၏ ကုမ္ပဏီမှတ်ပုံတင်လက်မှတ်၊ သင်းဖွဲ့စည်းမျဉ်း၊ သင်းဖွဲ့မှတ်တမ်းတို့ကို ပူးတွဲတင်ပြထားပါသည်။ |
| ၈။ | **စိစစ်တင်ပြချက်** | (က) ကုမ္ပဏီအနေဖြင့် ငွေဆောင်ကမ်းခြေဒေသရှိ ငှက်တောင် (မြောက်)ကျွန်းအား ခရီးသွားလုပ်ငန်းဒေသ (Tourism Destination)အဖြစ် အကောင်အထည်ဖော် ဆောင်ရွက်ခြင်း |

လုပ်ငန်းတွင် အောက်ပါလုပ်ငန်းများကို အကောင်အထည် ဖော်ဆောင်ရွက်မည်ဖြစ်ကြောင်းစိစစ်ရပါသည်-

(၁) ငွေဆောင်ကမ်းခြေ မှ ငှက်တောင် (မြောက်ကျွန်း) သို့ Speed boat ဖြင့် ရှုခင်းကြည့်ခရီးသည်ပို့ဆောင်ခြင်း

(၂) ခရီးသည် အတက်အဆင်းပြုလုပ်ရန် ဆိပ်ခံတံတားငယ် တည်ဆောက်ခြင်း။

(၃) ကမ်းစပ်မှ ကျွန်းပေါ်သို့ တက်ရောက်ရန် လမ်းကြောင်း (၁)ခု ပြုလုပ်ခြင်း။

(၄) Toilet နှင့်ရေဆိုးသန့်စင်စနစ် တည်ဆောက်ခြင်း။

(၅)ခရီးသည်များနားနေဆောင်များတည်ဆောက်ခြင်း။

(၆)အဝတ်လဲခန်းနှင့်ရေချိုးခန်းတည်ဆောက်ခြင်း။

(၇) အရေးပေါ်အခြေအနေတွင်နားခိုရန်အဆောင်တစ်ဆောင် တောင်ပေါ်တွင် တည်ဆောက်ခြင်း။

(၈) တောင်ပေါ်တက်လမ်းတစ်ခု တည်ဆောက်ခြင်း။

(၉) တောင်ပေါ်တွင် View Point တစ်ခုတည်ဆောက်ခြင်း။

(၁၀)ကျွန်းပေါ်တွင် လမ်းညွှန် ဆိုင်းဘုတ်များ၊ ကြော်ငြာ Vinyl များ စိုက်ထူခြင်း။

(၁၁)အမှိုက်စွန့်ပစ်ရန် အမှိုက်ပုံးများထားရှိခြင်း။

(ခ) ကုမ္ပဏီ၏ တင်ပြချက်အရငှက်တောင် (မြောက်ကျွန်း)နှင့် စပ်လျဉ်းသည့် အချက်အလက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | |
|---|---|
| (၁)ချစ်သူများကျွန်း (ငွေဆောင်ကမ်းခြေ)မှ ငှက်တောင် (မြောက်ကျွန်း)ထိ | ၉.၄၁ မိုင် |
| (၂) အမြန်ရေယာဉ်ငယ်ဖြင့်မောင်းနှင်ကြာချိန် | ၃၀ မိနစ် |
| (၃)ကျွန်းအလျား(တောင်မှမြောက်)အကျယ်ဆုံးနေရာ | ၁၇၅၀ ပေ |
| (၄)ကျွန်းအကျယ်(အရှေ့မှအနောက်)အကျယ်ဆုံးနေရာ | ၄၀၀ ပေ |
| (၅)သောင်ခုံအကျယ် | ၂.၅၃ ဧက |
| (၆)ကျွန်းအမြင့်ဆုံးအပိုင်း | ၁၇၀ ပေ |

(၇)အနီးပတ်ဝန်းကျင်ကျွန်း (တောင်ဘက် ၂ မိုင်အကွာ) ငှက်တောင်(တောင်ကျွန်း)

(ဂ) အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်အတွက် ထည်ဝါလင်းလက် ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်အား ဧရာဝတီတိုင်း ဒေသကြီး အစိုးရအဖွဲ့မှ ၂၅-၂-၂၀၁၆ ရက်စွဲနှင့် ၃၀-၃-၂၀၁၆ ရက်စွဲဖြင့် ခရီးသွားဧည့်သည် ဝန်ဆောင်မှုလုပ်ငန်းကြီးကြပ်မှု

အဖွဲ့ ဖွဲ့စည်းပေးခဲ့ပြီး ၄င်းအဖွဲ့၏ကြီးကြပ်မှုဖြင့် တစ်နှစ်စမ်းသပ် လုပ်ကိုင်ရန် ခွင့်ပြုပေးခဲ့ကြောင်း တင်ပြထားပါသည်။

(ဃ) ကုမ္ပဏီမှ ဆောင်ရွက်မည့် ခရီးသွားဝန်ဆောင်မှုလုပ်ငန်းတွင် ငွေဆောင်ကမ်းခြေမှ ငှက်တောင်(မြောက်ကျွန်း) သို့ Speed-boat ဖြင့် ရှုခင်းကြည့်ခရီးသည် ပို့ဆောင်ခြင်း ပါဝင်သည်ကိုတွေ့ရှိရပြီး ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန သို့ သက်ဆိုင်ရာ လုပ်ငန်းလိုင်စင် ရယူဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါသည်။

(င) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အမိန့်ကြော်ငြာစာ ၁၃/၂၀၁၇ အရ ခရီးသည်ပို့ဆောင်ရေးနှင့် ရှုခင်းကြည့် ခရီးသည် ပို့ဆောင်ရေးဝန်ဆောင်မှု လုပ်ငန်းသည် ဦးစားပေးမြှင့်တင်မည့်ရင်းနှီးမြှုပ်နှံမှုကဏ္ဍတွင် ပါဝင်ပါသည်။ လုပ်ငန်းဆောင်ရွက်လျက်ရှိပြီးဖြစ်သည့်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၇၅ အရ ဝင်ငွေခွန်ကင်းလွတ်ခွင့် ရရှိနိုင်မည်မဟုတ်ကြောင်းစိစစ်ရပါသည်။

(စ) အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၇ ခုနှစ်၊ ဧပြီလ ၁၀ ရက်နေ့ပါ အမိန့်ကြော်ငြာစာအမှတ် ၁၅/၂၀၁၇ အရကန့်သတ်သည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းများစာရင်းတွင်ပါဝင်ခြင်း မရှိပါကြောင်း ကျွန်းပေါ်တွင် ဆောင်ရွက်မည့်လုပ်ငန်းများနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ-၃၆ အရ နိုင်ငံတော်ပိုင်မြေ အဆောက်အဦကိုအသုံးပြုခြင်းဖြစ်ပါက မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်တင်ပြရန် လိုအပ်မည်ဖြစ်ပါကြောင်း စိစစ်ရပါသည်။

(ဆ) ကုမ္ပဏီအနေဖြင့် ခရီးသည်ပို့ဆောင်ရေး နှင့် ရှုခင်းကြည့် ခရီးသည် ပို့ဆောင်ရေး ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်အတွက် ဧရာဝတီတိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ အတည်ပြုမိန့်ဖြင့် ဆောင်ရွက်နိုင်သော်လည်း ကျွန်းပေါ်တွင် ဆောင်ရွက်လိုသည့် လုပ်ငန်းများအတွက် သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရဌာနအဖွဲ့အစည်းများ၏ ခွင့်ပြုမိန့်ရယူရန် လိုအပ်ပါသည်။

(ဇ) ပြည်ပမှ တင်သွင်းမည့် ပစ္စည်းစာရင်း၊ အခွန်ကင်းလွတ်ခွင့်သက်သာခွင့် လျှောက်ထားလွှာ၊ မြေအသုံးပြုခွင့်လျှောက်ထားလွှာပူးတွဲတင်ပြလျှောက်ထားခြင်းမရှိပါ။



Htal Wah Linn Let

ARIC

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# ဧရာဝတီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ

စာအမှတ်၊ ဧရက/ အ-၁၀၆(အ)/ရင်း(၄)/၂၀၁၇( ၀၉၁)

ရက်စွဲ ၊ ၂၀၁၇ ခုနှစ် နိုဝင်ဘာ လ ၁၄ ရက်

**ဧရာဝတီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီသို့**

**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **ထည်ဝါလင်းလက်ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်မှ ရာခိုင်နှုန်းပြည့် နိုင်ငံသားရင်းနှီး မြှုပ်နှံမှုဖြင့် ရှုခင်းကြည့်ခရီးသည် ပို့ဆောင်ရေးနှင့် ခရီးသွားဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ အတည်ပြုလျှောက်ထားလွှာတင်ပြလာခြင်းကိစ္စ**

၁။ ထည်ဝါလင်းလက် ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်မှ ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ဧရာဝတီတိုင်းဒေသကြီး၊ ငွေဆောင် ကမ်းခြေချစ်သူများကျွန်းမှ အနောက်မြောက်ဘက် ၉.၄ မိုင် အကွာ ပင်လယ်ပြင်တွင် တည်ရှိသော ငှက်တောင် (မြောက်ကျွန်း)သို့ ရှုခင်းကြည့်ခရီးသည်ပို့ဆောင်ရေးနှင့် ခရီးသွားဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ဧရာဝတီတိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှုကော်မတီသို့ တင်ပြလာပါသည်။

၂။ ထည်ဝါလင်းလက် ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်၏ ကုမ္ပဏီမှတ်ပုံတင်လက်မှတ်၊ သင်းဖွဲ့စည်းမျဉ်း၊ သင်းဖွဲ့မှတ်တမ်းတို့ကို ပူးတွဲတင်ပြထားပါသည်။

၃။ ငွေဆောင်ကမ်းခြေ ချစ်သူများကျွန်းမှ အနောက်မြောက်ဘက် ၉.၄ မိုင်အကွာ ပင်လယ်ပြင်တွင် တည်ရှိသော ငှက်တောင် (မြောက်ကျွန်း) သို့ Speed Boat ဖြင့် ရှုခင်းကြည့်ခရီးသည် ပို့ဆောင်မည် ဖြစ်ပါသည်။

၄။ လုပ်ငန်းသက်တမ်း ကာလမှာ ၁၅ နှစ် ဖြစ်ပြီး ပြင်ဆင်မှုကာလ တင်ပြထားခြင်းမရှိပါ။

၅။ လုပ်ငန်း၏ စုစုပေါင်း ရင်းနှီးမြှုပ်နှံမှုမှာ ကျပ်သန်း ၁,၀၀၀ ဖြစ်၍ အောက်ပါအတိုင်း ထည့်ဝင်မည် ဖြစ်ပါသည်-

| **ရင်းနှီးမြှုပ်နှံမှုပမာဏ** | **ကျပ်(သန်းပေါင်း)** |
|---|---|
| ပြည်တွင်းမှထည့်ဝင်သည့်မတည်ငွေရင်းပမာဏ | ၁,၀၀၀.၀၀ |
| နိုင်ငံခြားမှယူဆောင်လာမည့်မတည်ငွေရင်းပမာဏ | - |
| **စုစုပေါင်း** | **၁,၀၀၀.၀၀** |

၆။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်း ဦးရေ(၁၄)ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာကျပ် ၁၁၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၂၀၀,၀၀၀ နှင့် ပြည်ပဝန်ထမ်းခန့်အပ်ထားခြင်းမရှိကြောင်း တင်ပြထားပါသည်။

၇။ ကုမ္ပဏီအနေဖြင့် ဝန်ဆောင်မှုပေးလျက်ရှိသည့် Speed Boat အရေအတွက်နှင့် ဝန်ဆောင်ခနှုန်းတို့မှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | Speed Boat အမျိုးအစား | အရေအတွက် | ဝန်ဆောင်ခနှုန်း(ကျပ်) |
|---|---|---|---|
| (က) | ၆ ယောက်စီး | ၃ စီး | ၈၀,၀၀၀ |
| (ခ) | ၁၉ ယောက်စီး | ၁ စီး | ၂၂၀,၀၀၀ |

၈။ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ အောက်ပါ အတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားထားပါသည်-

(က) **ရောဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့** မှ သဘောထားမှတ်ချက်ပြန်ကြားလာခြင်း မရှိသေးပါ။

(ခ) **ရောဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့ ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစီးဌာနမှ** အဆိုပြုလုပ်ငန်းဆောင်ရွက်မည့် ငှက်တောင် (မြောက်)ကျွန်းတွင် သစ်တောဦးစီးဌာနမှ ငှက်သိုက်လေလံပေးထားသောလုပ်ငန်းရှိသောကြောင့် သဘာဝပတ်ဝန်းကျင်ကောင်းမွန်သည့် နေရာဖြစ်သဖြင့် သဘာဝအခြေပြု ခရီးသွားလုပ်ငန်း (Nature Base Tourism) ဖြစ်ပါကြောင်း၊ ထိုကဲ့သို့ သဘာဝအလှနှင့် သယံဇာတများအား လုပ်ငန်းဆောင်ရွက်မှုကြောင့် ထိခိုက်ပျက်စီးမှုများ အနည်းဆုံးဖြစ်စေရေးအတွက် ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း (Environmental Impact Assessment Procedure-EIA Procedure) နှင့်အညီ ကနဦး ပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination-IEE) ဆောင်ရွက်ရမည်ဖြစ်ပြီး ၄င်းဆန်းစစ်ချက်ရလဒ်ကို အခြေခံ၍ ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP) ရေးဆွဲတင်ပြ ဆောင်ရွက်သွားရန် ဦးစီးဌာန၏ သဘောထားအနေဖြင့် အကြောင်းပြန်ကြားသွားမည်ဖြစ်ကြောင်း၊ ၄င်းအပြင် ပုသိမ်တက္ကသိုလ် အဏ္ဏဝါသိပ္ပံဌာနမှ ကျောင်းသား/သူများ၏ ပညာရပ်ဆိုင်ရာ ပြင်ပလေ့လာရေးခရီးအား နှစ်စဉ်သွားရောက်နိုင်ရေးကူညီပံ့ပိုးသင့်ပါကြောင်းသဘောထားမှတ်ချက်ပြုထားပါသည်။

၉။ ငွေကြေးအထောက်အထားတင်ပြထားခြင်းမရှိပါ။

၁၀။ ထည်ဝါလင်းလက် ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်မှ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေးအစီအစဉ်၊ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာ ချောင်ချိရေးစီမံဆောင်ရွက်မည့် အစီအစဉ်၊ Safety Plan နှင့် CSR အစီအစဉ်များကို တင်ပြထားပါသည်။

၁၁။ **စိစစ်တင်ပြချက်**

(က)အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်အတွက် ထည်ဝါလင်းလက် ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်အား ရေဝတီတိုင်းဒေသကြီး အစိုးရအဖွဲ့မှ ၂၅-၂-၂၀၁၆ ရက်စွဲနှင့် ၃၀-၃-၂၀၁၆ ရက်စွဲဖြင့် ခရီးသွားဧည့်သည် ဝန်ဆောင်မှုလုပ်ငန်းကြီးကြပ်မှု အဖွဲ့ဖွဲ့စည်းပေးခဲ့ပြီး ၄င်းအဖွဲ့၏ကြီးကြပ်မှုဖြင့် စမ်းသပ်လုပ်ကိုင်ရန် ခွင့်ပြုပေးခဲ့ကြောင်း၊ ကုမ္ပဏီအနေဖြင့် ငွေဆောင်မှ ငှက်တောင်(မြောက်)ကျွန်းသို့ Speed Boat ဖြင့် ခရီးသည်ပို့ဆောင်ခြင်းကို ၁ နှစ် အစမ်းကာလအဖြစ် ပြေးဆွဲပြီးဖြစ်ကြောင်း စိစစ်ရပါသည်။

(ခ) ကုမ္ပဏီအနေဖြင့် ၁၅ နှစ် နှစ်ရှည်ရင်းနှီးမြှုပ်နှံမှုဖြင့် ဆောင်ရွက်လိုသဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်လိုခြင်းဖြစ်ပါသည်။

(ဂ) ကုမ္ပဏီအနေဖြင့် ငွေဆောင်ကမ်းခြေဒေသရှိငှက်တောင် (မြောက်)ကျွန်းအား ခရီးသွားလုပ်ငန်းဒေသ(Tourism Destination)အဖြစ် အကောင်အထည်ဖော် ဆောင်ရွက်ခြင်းဖြစ်ပြီး အောက်ပါလုပ်ငန်းများကို ဆောင်ရွက်မည်ဖြစ်ကြောင်း စိစစ်ရပါ သည်-

(၁) ငွေဆောင်ကမ်းခြေမှ ငှက်တောင်(မြောက်ကျွန်း) သို့ Speed boat ဖြင့် ရှုခင်း ကြည့်ခရီးသည် ပို့ဆောင်ခြင်း။

(၂) ငှက်တောင်(မြောက်ကျွန်း)တွင် ခရီးသည် အတက်အဆင်းပြုလုပ်ရန် ဆိပ်ခံတံတားငယ် တည်ဆောက်ခြင်း။

(၃) ကမ်းစပ်မှကျွန်းပေါ်သို့တက်ရောက်ရန်လမ်းကြောင်း(၁)ခုပြုလုပ်ခြင်း။

(၄) Toilet နှင့် ရေဆိုးသန့်စင်စနစ်တည်ဆောက်ခြင်း။

(၅) ခရီးသည်များနားနေဆောင်များတည်ဆောက်ခြင်း။

(၆) အဝတ်လဲခန်းနှင့်ရေချိုးခန်းတည်ဆောက်ခြင်း။

(၇) အရေးပေါ် အခြေအနေတွင် နားခိုရန် အဆောင်တစ်ဆောင် တောင်ပေါ်တွင် တည်ဆောက်ခြင်း။

(၈) တောင်ပေါ်တက်လမ်းတစ်ခုတည်ဆောက်ခြင်း။

(၉) တောင်ပေါ်တွင် View Point တစ်ခုတည်ဆောက်ခြင်း။

(၁၀) ကျွန်းပေါ်တွင် လမ်းညွှန် ဆိုင်းဘုတ်များ၊ ကြော်ငြာ Vinyl များစိုက်ထူခြင်း။

(၁၁) အမှိုက်စွန့်ပစ်ရန် အမှိုက်ပုံးများထားရှိခြင်း။

(ဃ)ကုမ္ပဏီမှ ဆောင်ရွက်မည့် ခရီးသွားဝန်ဆောင်မှုလုပ်ငန်းတွင် ငွေဆောင်ကမ်းခြေမှ ငှက်တောင်(မြောက်ကျွန်း) သို့ Speed boat ဖြင့် ရှုခင်းကြည့်ခရီးသည် ပို့ဆောင် ခြင်း ပါဝင်သည်ကိုတွေ့ရှိရပြီး ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာနသို့ သက်ဆိုင်ရာ လုပ်ငန်းလိုင်စင် ရယူဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါသည်။

(င)မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အမိန့်ကြော်ငြာစာ ၁၃/၂၀၁၇ အရ ခရီးသည်ပို့ဆောင်ရေးနှင့် ရှုခင်းကြည့်ခရီးသည်ပို့ဆောင်ရေး ဝန်ဆောင်မှုလုပ်ငန်းသည် ဦးစားပေး မြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍတွင်ပါဝင်ပါသည်။

(စ) ခရီးသည်ပို့ဆောင်ရေးနှင့် ရှုခင်းကြည့်ခရီးသည်ပို့ဆောင်ရေး ဝန်ဆောင်မှုလုပ်ငန်းသည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ၏ ၂၀၁၇ ခုနှစ်၊ ဧပြီလ ၁၀ ရက်နေ့ပါ အမိန့်ကြော်ငြာစာအမှတ် ၁၅/၂၀၁၇ အရကန့်သတ်သည့် ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းများစာရင်းတွင် ပါဝင်ခြင်းမရှိပါကြောင်း ကျွန်းပေါ်တွင်ဆောင်ရွက်မည့်လုပ်ငန်းများနှင့် စပ်လျဥ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ-၃၆ အရ နိုင်ငံတော်ပိုင်မြေ အဆောက်အဦကို အသုံးပြုခြင်းဖြစ်ပါက မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်တင်ပြရန် လိုအပ်မည်ဖြစ်ပါကြောင်း စိစစ်ရပါသည်။

(ဆ)ကုမ္ပဏီအနေဖြင့် ခရီးသည်ပို့ဆောင်ရေး နှင့် ရှုခင်းကြည့် ခရီးသည် ပို့ဆောင်ရေး ဝန်ဆောင်မှုလုပ်ငန်းအား ဧရာဝတီတိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ အတည်ပြုမိန့်ဖြင့် ဆောင်ရွက်နိုင်ပြီး ကျွန်းပေါ်တွင် ဆောင်ရွက်လိုသည့် လုပ်ငန်းများအတွက် သက်ဆိုင်ရာ အစိုးရဌာန/အဖွဲ့အစည်းများ၏ ဥပဒေ၊ လုပ်ထုံးလုပ်နည်း နှင့်အညီ လိုက်နာဆောင်ရွက်စေရန် လိုအပ်မည်ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၂။ ထည်ဝါလင်းလက် ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်မှ ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ဧရာဝတီတိုင်းဒေသကြီး၊ ငွေဆောင် ကမ်းခြေချစ်သူများကျွန်းမှ အနောက်မြောက်ဘက် ၉.၄ မိုင် အကွာ ပင်လယ်ပြင်တွင် တည်ရှိသော ငှက်တောင် (မြောက်ကျွန်း)သို့ ရှုခင်းကြည့်ခရီးသည်ပို့ဆောင်ရေးနှင့် ခရီးသွားဝန်ဆောင်မှုလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုရန် သဘောတူ/မတူ။

14/11/2017

ဥက္ကဋ္ဌ (ကိုယ်စား)
(စိုးအောင်၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ